MYANMAR SYNERGY GARMENT CO., LTD.
No.(18/19), Depeyin Wun Htauk U Myae Street, Industrial Zone (2), Hlaing Tharyar Township,
Yangon, Myanmar.
Phone : (95-1) 684704, 684829 Fax : (95-1) 684704

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ၊ (၂) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ MYANMAR SYNERGY GARMENT CO., LTD. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် အမှတ် ၁၈-၁၉၊ ဒီပဲယင်းဝန်ထောက်ဦးမြဲလမ်း၊ စက်မှုဇုံ (၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့တွင် ၃.၆၁၉ဧက အကျယ်အဝန်းရှိမြေနှင့် စက်ရုံအဆောက်အဦးများကို ငှားရမ်းကာ လက်ခစားအထည်ချုပ်စက်ရုံတည်ထောင်ဖွင့်လှစ်ပြီး T-Shirt, Sport Shirt, Men Shirt, Lady Vest, များကို လက်ခစားချုပ်လုပ်ကာ ချုပ်လုပ်ပြီးအထည်များ၏ ၉၉% ကို ပြည်ပသို့ တင်ပို့ခြင်း၊ Reject ၁% ကို ပြည်တွင်းတွင် ရောင်းချခြင်းများ လုပ်ကိုင်လိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ ကုမ္ပဏီသည် စက်ပစ္စည်း အများစုကို ပြည်ပမှဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်အနေဖြင့် ငွေသား ကျပ်(၁၃၅)သန်း၊ ပရိဘောဂနှင့် ရုံးအသုံးအဆောင်ပစ္စည်း ကျပ် (၁၅) သန်း နှင့် စက်ပစ္စည်းများ အတွက် မြန်မာကျပ်ငွေ ကျပ် သန်း (၄၀၀) နှင့်ညီမျှသော အမေရိကန်ဒေါ်လာ (၀.၅) သန်း စုစုပေါင်းကျပ် (၅၅၀)သန်း ကိုထည့်ဝင်ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်၍ရရှိလာသောအမြတ်ငွေများကိုလည်း၊ မြန်မာနိုင်ငံတော် အတွင်း အခြား ခွင့်ပြုထားသည့် လုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန် အတွက်လည်းကောင်း၊ စက်မှုနည်းပညာရပ်များ တိုးပွား ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီ၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ (၁၂) နှင့် (၁၃)တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့် များကို ပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြု သူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊

(၂) ကုမ္ပဏီ သင်းဖွဲ့ မှတ်တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းများ နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များ၊

(၃) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍တွက်ချက်မှုဇယားများ၊

(၄) မြေနှင့် အဆောက်အဦးငှားရမ်းစာချုပ် (မူကြမ်း)

(၅) Buyer ကုမ္ပဏီနှင့် ချုပ်ဆိုထားသော CMPMOA

လေးစားစွာဖြင့်

လျှောက်ထားသူ

ဦးမင်းဇော်ဦး

အုပ်ချုပ်မှုဒါရိုက်တာ

MYANMAR SYNERGY GARMENT CO., LTD.

# MYANMAR SYNERGY GARMENT CO., LTD.

No.(18/19), Depeyin Wun Htauk U Myae Street, Industrial Zone (2), Hlaing Tharyar Township,
Yangon, Myanmar.
Phone : (95-1) 684704, 684829 Fax : (95-1) 684704


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ။၂၀၁၂ခုနှစ်၊ အောက်တိုဘာလ၊ (၂) ရက်။

အကြောင်းအရာ။ ။ **လက်ခစား(CMP)အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ MYANMAR SYNERGY GARMENT CO., LTD. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် အမှတ် ၁၈-၁၉၊ ဒီပဲယင်းဝန်ထောက်ဦးမြဲလမ်း၊ စက်မှုဇုံ (၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့တွင် ၃.၆၁၉ဧက အကျယ်အဝန်းရှိမြေနှင့် စက်ရုံအဆောက်အဦးများကို ငှားရမ်းကာ လက်ခစားအထည်ချုပ်စက်ရုံတည်ထောင်ဖွင့်လှစ်ပြီး T-Shirt, Sport Shirt, Men Shirt, Lady Vest, များကို လက်ခစားချုပ်လုပ်ကာ ချုပ်လုပ်ပြီးအထည်များ၏ ၉၉% ကို ပြည်ပသို့ တင်ပို့ခြင်း၊ Reject ၁%ကို ပြည်တွင်းတွင် ရောင်းချခြင်းများ လုပ်ကိုင်လိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ထိုသို့မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်သို့ တင်ပြလျှောက်ထားရာတွင် ခွင့်ပြုမိန့် ရရှိရေးအတွက်အောက်ပါ တို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) ဤစက်ရုံမှ ထွက်ရှိသော ချုပ်လုပ်ပြီးအထည်များကို ပြည်ပသို့ ၉၉ % တင်ပို့ပြီး၊ Reject ၁%ကို ပြည်တွင်းတွင် ရောင်းချ သွားမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင် ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ယ) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် ကြိုတင်စီမံမှုများ ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(င) ယခုအဆိုပြုတင်ပြသည့် လုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ကုမ္ပဏီအနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်နှင့် တိုင်းဒေသကြီး ဒေသန္တရ စက်မှုကြီးကြပ်ရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) အလုပ်သမားများ၊ ဝန်ထမ်းများနှင့် ပတ်သက်၍ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များအတိုင်းလိုက်နာဆောင်ရွက်ပါမည်။

(ဇ) စက်ရုံတွင် တပ်ဆင်အသုံးပြုမည့် စက်ပစ္စည်းအားလုံးမှာ အသစ်များဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဈ) နိုင်ငံခြားမှ အမှာစာ လုံလောက်စာရရှိရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ည) နိုင်ငံခြားငွေဖြင့် ရရှိသော ဝင်ငွေများကို မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်ရှိ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

လျှောက်ထားသူ

Myanmar Synergy Garment Co., Ltd.

ဦးမင်းဂေါင်ဦး

အုပ်ချုပ်မှု ဒါရိုက်တာ

MYANMAR SYNERGY GARMENT CO., LTD.

**MYANMAR SYNERGY GARMENT CO., LTD.**
No.(18/19), Depeyin Wun Htauk U Myae Street, Industrial Zone (2), Hlaing Tharyar Township,
Yangon, Myanmar.
Phone : (95-1) 684704, 684829 Fax : (95-1) 684704

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ။၂၀၁၂ခုနှစ်၊ အောက်တိုဘာလ၊ (၂) ရက်။

**အကြောင်းအရာ။** **။ ရင်းနှီးမြှုပ်နှံမှု သက်တမ်းလျှာထားချက်အားတင်ပြခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ MYANMAR SYNERGY GARMENT CO., LTD. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတွင် အမှတ် ၁၈-၁၉၊ ဒီပဲယင်းဝန်ထောက်ဦးမြဲလမ်း၊ စက်မှုဇုံ (၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့တွင် ၃.၆၁၉၈က အကျယ်အဝန်းရှိမြေနှင့် စက်ရုံအဆောက်အဦးများကို ငှားရမ်းကာ **လက်ခစား အထည်ချုပ်စက်ရုံ**တည်ထောင်ဖွင့်လှစ်ပြီး T-Shirt, Sport Shirt, Men Shirt, Lady Vest, များကို လက်ခစားချုပ်လုပ်ကာ ချုပ်လုပ်ပြီးအထည်များ၏ ၉၉% ကို ပြည်ပသို့ တင်ပို့ခြင်း၊ Reject ၁% ကို ပြည်တွင်းတွင် ရောင်းချခြင်းများ လုပ်ကိုင်လိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီသည် **လက်ခစား အထည်ချုပ်စက်ရုံ** လုပ်ငန်းကို **အနည်းဆုံး နှစ်ပေါင်း (၂၀)** ရင်းနှီးမြှုပ်နှံလုပ်ကိုင်သွားမည်ဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်မှ ဆက်လက်ခွင့်ပြုပါက ခွင့်ပြုသည့် ကာလအထိ လုပ်ကိုင်သွားရန် ရည်ရွယ်လျှာထားပါသည်။

ထို့အပြင် **လက်ခစား အထည်ချုပ်စက်ရုံ** လုပ်ငန်းရင်းနှီးမြှုပ်နှံမှုမှ ရရှိသော အကျိုးအမြတ်များကိုလည်း အလုပ်အကိုင်အခွင့်အလမ်းများ ဖြစ်ပေါ်စေသော၊ ဆင်းရဲမှုပပျောက်ရေးကိုအထောက်အကူပြုသော လုပ်ငန်းများတွက် ထပ်မံရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါကြောင်း တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

**ဦးမင်းဂေါင်ဦး**

အုပ်ချုပ်မှုဒါရိုက်တာ

**MYANMAR SYNERGY GARMENT CO., LTD.**

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

## မြန်မာပေါင်းစည်းရလဒ်အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်

## Myanmar Synergy Garment Company Limited

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
# (ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

နေပြည်တော်။

စာအမှတ် ။

ရက်စွဲ ။၂၀၁၂ခုနှစ်၊ အောက်တိုဘာလ၊ ( ၂ )ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေများ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြလျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဦးမင်းဂေါင်ဦး |
| (ခ) | အဘအမည် | ဦးညီညီဦး |
| (ဂ) | နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/ဗဟန(နိုင်) ၀၉၀၃၃၃ |
| (ဃ) | နေရပ်လိပ်စာ | အမှတ်(၃၅/ဘီ)၊ ရွှေတောင်ကြားလမ်း၊ ရွှေတောင်ကြား (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| (င) | လူမျိုး၊ ဘာသာ | ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | မြန်မာပေါင်းညီရလဒ်အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်(၁၈၊၁၉)၊ ဒီပဲယင်းဝန်ထောက်ဦးမြဲလမ်း၊ စက်မှုဇုံ (၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည်
(ခ) အဘအမည်
(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်
(ဃ) နေရပ်လိပ်စာ
(င) လူမျိုး၊ ဘာသာ
(စ) အဖွဲ့အစည်းအမည်
(ဆ) လုပ်ငန်းအမျိုးအစား
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ်

၃။ ရင်းနှီးမြှုပ်နှံလိုသည့်လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း - CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း - လီမိတက်ကုမ္ပဏီ

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း -

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် -

(ခ) အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ - မြန်မာပေါင်းညှိရလဒ်အထည်ချုပ်လုပ်ငန်းကုမ္ပဏီလီမိတက်

(ဃ) သမဝါယမအသင်း -

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဌာန် ဖွဲ့စည်းလိုပါက

(က) အစုဝင်တို့က ထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ -

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား -

(ဂ) အစုစပ်ဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ -

၇။ လီမိတက်ကုမ္ပဏီ ဖွဲ့စည်းလိုပါက

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၅ ၀၀၀ ၀၀၀ ၀၀၀ (ကျပ် ငါးထောင်သန်း)

(ခ) အစုရှယ်ယာအချိုးအစား - ကျပ် ၁၀၀ ၀၀၀ တန် သာမာအစုရှယ်ယာ ၅၀ ၀၀၀

(ဂ) အစုရှယ်ယာရှင်များက ထည့်ဝင်မည့်အစုရှယ်ယာပမာဏ - ကျပ် ၅၅၀ ၀၀၀ ၀၀၀
(ကျပ် သန်းငါးရာငါးဆယ်တိတိ)
- ကျပ် ၁၀၀ ၀၀၀တန် အစုရှယ်ယာ ၅၅၀၀ စု

၈။ **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းများနှင့်သက်ဆိုင်သောအချက်အလက်များ - ကျပ် သိန်းပေါင်း**

| | ကိုယ်ပိုင် ကျပ် | ကိုယ်ပိုင် အမေရိကန်ဒေါ်လာ | စုစုပေါင်း ကျပ် |
|---|---|---|---|
| (က) မတည်ငွေရင်းပမာဏ | | | |
| (၁) ငွေပမာဏ | ၁၃၅၀ | | ၁၃၅၀ |
| (၂) စက်ပစ္စည်းကိရိယာများ၊ (နောက်ဆက်တွဲ - ၁) | | ၅ | ၄၀၀၀ |
| (၃) ပရိဘောဂနှင့်ရုံးသုံးကိရိယာ | ၁၅၀ | | ၁၅၀ |
| **စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ** | **၁၅၀၀** | **၅** | **၅၅၀၀** |

| (ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် - | ကျပ် | အမေရိကန်ဒေါ်လာ (ထောင်ပေါင်း) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး | | ၅၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူပစ္စည်းတန်ဖိုး | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |

(ဂ) တည်ဆောက်မှုကာလ(ပြုပြင်ရေး) - ၆လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - ၆လ

(င) တည်ဆောက်မှုစတင်မည့်အချိန် -

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့် နေ့မှစတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်သွားမည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - CMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - အမှတ်(၁၈၊၁၉)၊ဒီပဲယင်းဝန်ထောက်ဦးမြလမ်း၊ စက်မှုဇုံ(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - Cutting, Making, Packging (CMP)စနစ်ဖြင့်လက်ခစားထုတ်လုပ်မှု

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

(၁) ဒီဇယ်ဆီ - ၁၀၀၀၀ ဂါလံ

(၂) ဓါတ်ဆီ - ၅၀၀၀ ဂါလံ

(၃) စက်ဆီ၊ ချောဆီ - ၁၀၀ ဂါလံ

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

၁။ လျှပ်စစ်ဓါတ်အား - ၅၀၀ KVA

၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား - ၂၀၀ KWA

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား -

၄။ သဘာဝဓါတ်ငွေ့သုံးစက်အား -

၅။ ပေးပို့သည့်အခြားအား (ရေအား၊ လေအားစသည်များ) -

(စ) နှစ်စဉ်ရေလိုအပ်ချက် -

၁။ တစ်နေ့ရေလိုအပ်ချက် - ဂါလံ ၃၀၀၀

၂။ တစ်နှစ်ရေလိုအပ်ချက် - ဂါလံ ၁၀၀၀၀၀၀

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း၊ ကုန်ကြမ်းလိုအပ်ချက် - (နောက်ဆက်တွဲ (၂))

(ဇ) အဆောက်အဦးလိုအပ်ချက် - ၄၁၈ပေ x ၉၅ပေ x ၁၉၈ (L)ပုံ

- ၁၂၀ ပေ x ပေ ၃၀

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် - ပုဂ္ဂလိကပိုင် စက်မှုလက်မှုမြေ ၃.၆၁၉ ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း၊ ဝန်ဆောင်မှု - နောက်ဆက်တွဲ (၃)

(ဋ) ရောင်းချမည့်နည်းစနစ် - CMPစနစ်အရ ကုန်ချော ၉၉% ကိုပြည်ပသို့ ပြန်လည်တင်ပို့ပြီး ပြည်တွင်းတွင် မြန်မာကျပ်ငွေဖြင့် Reject ၁% ရောင်းချမည်။

**၁၀။ နှစ်စဉ်ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ -**

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | | နောက်ဆက်တွဲ ( ၆ ) |
| (ခ) | လိုအပ်မည့်နိုင်ငံခြားသုံးငွေ | | နောက်ဆက်တွဲ ( ၆ ) |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | | နောက်ဆက်တွဲ ( ၃ ) |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း၊ ဝန်ဆောင်မှုတန်ဖိုး | | နောက်ဆက်တွဲ ( ၃ ) |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း၊ ဝန်ဆောင်မှုတန်ဖိုး | | နောက်ဆက်တွဲ ( ၃ ) |

**၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့် အမှုထမ်းများစာရင်း -**

(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ - နောက်ဆက်တွဲ ( ၄ )

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ - နောက်ဆက်တွဲ ( ၄ )

**၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -**

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ ( ၅ ) | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ ( ၅ ) | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ ( ၅ ) | |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်မှု | နောက်ဆက်တွဲ ( ၆ ) | |
| (င) | အရင်းကြေကာလ | နောက်ဆက်တွဲ ( ၇ ) | |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ ( ၈ ) | |
| (ဆ) | အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲ ( ၄ ) | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ -

အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို အခြေအနေအထောက်အထားများ၊

(က) ပဋိညာဉ်စာချုပ်မူကြမ်း

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

(င) မြေငှားစာချုပ် (မူကြမ်း)

လက်မှတ် -

အမည် - ဦးမင်းဂေါင်ဦး

ရာထူး - အုပ်ချုပ်မှုဒါရိုက်တာ

MYANMAR SYNERGY GARMENT CO., LTD.

Myanmar Synergy Garment Co., Ltd.

## မြန်မာပေါင်းညှိရလဒ်အထည်ချုပ်လုပ်ငန်းကုမ္ပဏီ လီမိတက်

## ဒါရိုက်တာအမည်စာရင်း

| စဉ် | အမည် | နိုင်ငံသားနှင့် နိုင်ငံသားစိစစ်ရေးကဒ်အမှတ် | ရာထူး | လိပ်စာ | ထည့်ဝင်ရင်းနှီးငွေ ကျပ် သိန်း |
|---|---|---|---|---|---|
| ၁။ | ဦးမင်းဂေါင်ဦး | မြန်မာ<br>၁၂/ဗဟန (နိုင်)<br>၀၉၀၃၃၃ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် ၃၅ (ခ)၊ ရွှေတောင်ကြားလမ်း<br>ရွှေတောင်ကြား (၂) ရပ်ကွက်<br>ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | 2,150 |
| ၂။ | ဦးမြင့်သိန်းဇော် | မြန်မာ<br>၉/ခအဇ (နိုင်)<br>၀၀၃၄၉၈ | ဒါရိုက်တာ | အမှတ် ၅၆၀၊ လမ်း ၈၀၊ ၃၃ လမ်းနှင့် ၃၄ လမ်းကြား<br>အောင်နန်းရိပ်သာအရှေ့ရပ်၊<br>ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး | 1,700 |
| ၃။ | ဦးသန်းထွန်းဝင်း | မြန်မာ<br>၉/ခအဇ (နိုင်)<br>၀၀၂၀၆၉ | ဒါရိုက်တာ | အမှတ် ၆၂၉၊ လမ်း ၈၀၊ ၃၁ လမ်းနှင့် ၃၂ လမ်းကြား<br>အောင်နန်းရိပ်သာအရှေ့ရပ်၊<br>ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး | 1,650 |
| | | | | | 5,500 |

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၁)

# MACHINERY AND EQUIPMENT LIST

## TO BE IMPORTED

| No | MACHINE | AU | Qty | Unit Price | Value(US$) |
|---|---|---|---|---|---|
| 1 | Single needle lock-stitch machine with automatic thread trimmer with operation panel and with thread | Set | 150 | 200 | 30,000 |
| 2 | Inter Lock machine | Set | 150 | 200 | 30,000 |
| 3 | Single needle straight lock stitch machine | Set | 100 | 200 | 20,000 |
| 4 | Needle detector straight lockstitch machine | Set | 10 | 200 | 2,000 |
| 5 | 2- needle feed-off-the-arm chain stitch machine with puller | Set | 80 | 200 | 16,000 |
| 6 | Fabric cutter | Set | 20 | 350 | 7,000 |
| 7 | Button hole machine | Set | 12 | 300 | 3,600 |
| 8 | Electronic lockstitch button sewing machine | Set | 15 | 300 | 4,500 |
| 9 | Sewing thread cutter | Pcs | 16 | 150 | 2,400 |
| 10 | 4-needle,8-thread chain stitch machine with puller + needle gauge 17 needle for DFB-1404PSF | Set | 150 | 280 | 42,000 |
| 11 | Computer controled,High-speed,bartacking machine | Set | 50 | 500 | 25,000 |
| 12 | Overlock machine (Type I) | Set | 50 | 450 | 22,500 |
| 13 | Overlock machine (Type II) | Set | 40 | 500 | 20,000 |
| 14 | 2-needle sewing machine (Type I) | Set | 150 | 220 | 33,000 |
| 15 | 2-needle sewing machine (Type II) | Set | 100 | 250 | 25,000 |

| | | | | | |
|---|---|---|---|---|---|
| 16 | Top fussing machine with cooler | Set | 20 | 300 | 6,000 |
| 17 | Top fussing machine | Set | 20 | 300 | 6,000 |
| 18 | Revolving slab fusing machine | Set | 10 | 300 | 3,000 |
| 19 | Collar turn and press machine | Set | 20 | 300 | 6,000 |
| 20 | Cuff turn and press machine | Set | 20 | 300 | 6,000 |
| 21 | Vacuum ironing table (Type I) | Pc | 20 | 200 | 4,000 |
| 22 | Vacuum ironing table (Type II) | Pc | 20 | 200 | 4,000 |
| 23 | Shirt folding table (Type I) | Pc | 20 | 200 | 4,000 |
| 24 | Trolley Carrier | Pc | 30 | 100 | 3,000 |
| 25 | Folk lift | No. | 2 | 15000 | 30,000 |
| 26 | Generator (200 KVA) | Set | 1 | 20000 | 20,000 |
| 27 | Generator (300 KVA) | Set | 1 | 25000 | 25,000 |
| 28 | Conveyor machine | Set | 2 | 25000 | 50,000 |
| 29 | Machine Tools | Log | 1 | 20000 | 20,000 |
| 30 | Machine Spare Parts | Log | 1 | 30000 | 30,000 |
| **TOTAL (US$)** | | | | | **500,000** |

Myanmar Synergy Garment Co., Ltd.

Sheet II

နောက်ဆက်တွဲ (၁)

# Furniture and Office Equipment List

## Purchases by Kyats

| Sr. | Particulars | AU | Qty | Unit Price | Value (Ks.) |
|---|---|---|---|---|---|
| 1 | Officer Table | No. | 3 | 160,000 | 480,000 |
| 2 | Staff Table | No. | 10 | 100,000 | 1,000,000 |
| 3 | Officer Chair | No. | 3 | 120,000 | 360,000 |
| 4 | Staff Chairs | No. | 20 | 75,000 | 1,500,000 |
| 5 | Meeting Room Tables | No. | 1 | 800,000 | 800,000 |
| 6 | Meeting Room Chairs | No. | 40 | 50,000 | 2,000,000 |
| 7 | Computer | Set | 5 | 500,000 | 2,500,000 |
| 8 | Copier | No. | 1 | 1,200,000 | 1,200,000 |
| 9 | Printer | No. | 2 | 180,000 | 360,000 |
| 10 | Cabinet | No. | 4 | 200,000 | 800,000 |
| 11 | Time Machine | No. | 1 | 800,000 | 800,000 |
| 12 | Sound System | Set | 1 | 1,200,000 | 1,200,000 |
| 13 | CCTV System | Set | 1 | 1,000,000 | 1,000,000 |
| 14 | Shelves | No. | 20 | 50,000 | 1,000,000 |
| | | | | | 15,000,000 |

နောက်ဆက်တွဲ (၂)

# နှစ်စဉ် ကုန်ကြမ်းလိုအပ်ချက်

| စဉ် | အမျိုးအမည် | ယူနစ် | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|
| 1 | Fabric | Yds(000) | 8,520 | 8,946 | 9,372 | 9,798 | 10,224 |
| 2 | Hang Tag | Pc(000) | 5,670 | 5,954 | 6,237 | 6,521 | 6,804 |
| 3 | Main Label | Pc(000) | 5,670 | 5,954 | 6,237 | 6,521 | 6,804 |
| 4 | Printed Logo | Pc(000) | 5,670 | 5,954 | 6,237 | 6,521 | 6,804 |
| 5 | Spun Thread | MT | 70,200 | 73,710 | 77,220 | 80,730 | 84,240 |
| 6 | Knitted Thread | MT | 141,000 | 148,050 | 155,100 | 162,150 | 169,200 |
| 7 | Button | Pc(000) | 207,000 | 217,350 | 227,700 | 238,050 | 248,400 |
| 8 | Packing Material | No. (000) | 5,940 | 6,237 | 6,534 | 6,831 | 7,128 |

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၂-က)

# Material Requierment for One Unit (Norm)

| Sr. | Particulars | AU | Quantity | | |
|---|---|---|---|---|---|
| | | | Original | Loss | Total |
| 1 | T-Shirt | | | | |
| | Fabric | Yds | 1.2 | 0.1 | 1.3 |
| | Hang Tag | Pc | 1 | | 1 |
| | Main Label | Pc | 1 | | 1 |
| | Printed Logo | Pc | 1 | | 1 |
| | Spun Thread | gm | 10 | | 10 |
| | Knitted Thread | gm | 35 | | 35 |
| | Packing Material | No. | 1 | | 1 |
| 2 | Sport Shirt | | | | |
| | Fabric | Yds | 1.7 | 0.1 | 1.8 |
| | Hang Tag | Pc | 1 | | 1 |
| | Main Label | Pc | 1 | | 1 |
| | Printed Logo | Pc | 1 | | 1 |
| | Spun Thread | gm | 15 | | 15 |
| | Knitted Thread | gm | 45 | | 45 |
| | Button | Pc | 5 | | 5 |
| | Packing Material | No. | 1 | | 1 |
| 3 | Shirt | | | | |
| | Fabric | Yds | 1.9 | 0.1 | 2 |
| | Hang Tag | Pc | 1 | | 1 |
| | Main Label | Pc | 1 | | 1 |
| | Printed Logo | Pc | 1 | | 1 |
| | Spun Thread | gm | 25 | | 25 |
| | Knitted Thread | gm | | | 0 |
| | Button | Pc | 15 | | 15 |
| | Packing Material | No. | 1 | | 1 |
| 4 | Lady Vest | | | | |
| | | Meter | 1 | 0.1 | 1.1 |
| | Hang Tag | Pc | 1 | | 1 |
| | Main Label | Pc | 1 | | 1 |
| | Printed Logo | Pc | 1 | | 1 |
| | Spun Thread | gm | 15 | | 15 |
| | Knitted Thread | gm | 150 | | 150 |
| | Button | Pc | 4 | | 4 |
| | Packing Material | No. | 1 | | 1 |

နောက်ဆက်တွဲ (၃)

# Goods To Be Produced and Sales Plan (Quantity)

| Sr. | Particulars | AU | Year 1 | Year 2 | Year 3 | Year 4 | Year 5 to 10 |
|---|---|---|---|---|---|---|---|
| I | Production Qty | | | | | | |
| 1 | T-Shirt | DZ | 100,000 | 105,000 | 110,000 | 115,000 | 120,000 |
| 2 | Sport Shirt | DZ | 150,000 | 157,500 | 165,000 | 172,500 | 180,000 |
| 3 | Shirt | DZ | 100,000 | 105,000 | 110,000 | 115,000 | 120,000 |
| 4 | Lady Vest | DZ | 100,000 | 105,000 | 110,000 | 115,000 | 120,000 |
| | | | 450,000 | 472,500 | 495,000 | 517,500 | 540,000 |
| II | CMP (99%) | | | | | | |
| 1 | T-Shirt | DZ | 99,000 | 103,950 | 108,900 | 113,850 | 118,800 |
| 2 | Sport Shirt | DZ | 148,500 | 155,925 | 163,350 | 170,775 | 178,200 |
| 3 | Shirt | DZ | 99,000 | 103,950 | 108,900 | 113,850 | 118,800 |
| 4 | Lady Vest | DZ | 99,000 | 103,950 | 108,900 | 113,850 | 118,800 |
| | | | 445,500 | 467,775 | 490,050 | 512,325 | 534,600 |
| III | Reject (1%) | | | | | | |
| 1 | T-Shirt | DZ | 1,000 | 1,050 | 1,100 | 1,150 | 1,200 |
| 2 | Sport Shirt | DZ | 1,500 | 1,575 | 1,650 | 1,725 | 1,800 |
| 3 | Shirt | DZ | 1,000 | 1,050 | 1,100 | 1,150 | 1,200 |
| 4 | Lady Vest | DZ | 1,000 | 1,050 | 1,100 | 1,150 | 1,200 |
| | | | 4,500 | 4,725 | 4,950 | 5,175 | 5,400 |
| | Total | | 450,000 | 472,500 | 495,000 | 517,500 | 540,000 |

Myanmar Synergy Garment Co., Ltd.

Sheet 2

နောက်ဆက်တွဲ (၃)

# Goods To Be Produced and Sales Plan (Value)

| Sr. | Particulars | AU | Year 1 | Year 2 | Year 3 | Year 4 | Year 5 to 10 |
|---|---|---|---|---|---|---|---|
| I | CMP Charges | | | | | | |
| 1 | T-Shirt | US$/DZ | 5 | 5 | 5 | 5 | 5 |
| 2 | Sport Shirt | US$/DZ | 7 | 7 | 7 | 7 | 7 |
| 3 | Shirt | US$/DZ | 8 | 8 | 8 | 8 | 8 |
| 4 | Lady Vest | US$/DZ | 7 | 7 | 7 | 7 | 7 |
| II | CMP Income | | | | | | |
| 1 | T-Shirt | US$ | 495,000 | 519,750 | 544,500 | 569,250 | 594,000 |
| 2 | Sport Shirt | US$ | 1,039,500 | 1,091,475 | 1,143,450 | 1,195,425 | 1,247,400 |
| 3 | Shirt | US$ | 792,000 | 831,600 | 871,200 | 910,800 | 950,400 |
| 4 | Lady Vest | US$ | 693,000 | 727,650 | 762,300 | 796,950 | 831,600 |
| | Total Income US$ | US$ | 3,019,500 | 3,170,475 | 3,321,450 | 3,472,425 | 3,623,400 |
| | Equivalent in Kyats | Ks. (000) | 2,415,600 | 2,536,380 | 2,657,160 | 2,777,940 | 2,898,720 |
| III | Reject Sale Price | | | | | | |
| 1 | T-Shirt | KS/DZ | 12,000 | 12,000 | 12,000 | 12,000 | 12,000 |
| 2 | Sport Shirt | KS/DZ | 18,000 | 18,000 | 18,000 | 18,000 | 18,000 |
| 3 | Shirt | KS/DZ | 18,000 | 18,000 | 18,000 | 18,000 | 18,000 |
| 4 | Lady Vest | KS/DZ | 12,000 | 12,000 | 12,000 | 12,000 | 12,000 |
| IV | Reject Sale Amount | | | | | | |
| | T-Shirt | Ks. (000) | 12,000 | 12,600 | 13,200 | 13,800 | 14,400 |
| | Sport Shirt | Ks. (000) | 27,000 | 28,350 | 29,700 | 31,050 | 32,400 |
| | Shirt | Ks. (000) | 18,000 | 18,900 | 19,800 | 20,700 | 21,600 |
| | Lady Vest | Ks. (000) | 12,000 | 12,600 | 13,200 | 13,800 | 14,400 |
| | Total Income Kyats | Ks. (000) | 69,000 | 72,450 | 75,900 | 79,350 | 82,800 |
| Grand Total in Kyats | | Ks. (000) | 2,484,600 | 2,608,830 | 2,733,060 | 2,857,290 | 2,981,520 |

Exchange Rate 1 US$ = Kyats 800

နောက်ဆက်တွဲ (၄)

# အလုပ်အကိုင်ရရှိမှုအခြေအနေ

| စဉ် | ဂန်ထမ်းအမျိုးအစား | ဦးရေ | လစာ နှုန်း | တစ်လ | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|---|---|
| | | | ကျပ် (000) | ကျပ်(000) | ကျပ်(000) | ကျပ်(000) | ကျပ်(000) | ကျပ်(000) | ကျပ်(000) |
| | ပြည်တွင်း လုပ်သားလိုအပ်ချက် | | | | | | | | |
| 1 | Factory Manager | 1 | 250 | 250 | 3,000 | 3,000 | 3,000 | 3,000 | 3,000 |
| 2 | Manager | 4 | 180 | 720 | 8,640 | 8,640 | 8,640 | 8,640 | 8,640 |
| 3 | Office Staff | 15 | 90 | 1,350 | 16,200 | 16,200 | 16,200 | 16,200 | 16,200 |
| 4 | Engineer | 5 | 150 | 750 | 9,000 | 9,000 | 9,000 | 9,000 | 9,000 |
| 5 | Assistant Engineer | 5 | 120 | 600 | 7,200 | 7,200 | 7,200 | 7,200 | 7,200 |
| 6 | Supervisor | 30 | 110 | 3,300 | 39,600 | 39,600 | 39,600 | 39,600 | 39,600 |
| 7 | Skilled Workers | 650 | 90 | 58,500 | 702,000 | 702,000 | 702,000 | 702,000 | 702,000 |
| 8 | Semi-Skilled Workers | 500 | 80 | 40,000 | 480,000 | 480,000 | 480,000 | 480,000 | 480,000 |
| 9 | Unskilled Workers | 270 | 70 | 18,900 | 226,800 | 226,800 | 226,800 | 226,800 | 226,800 |
| 10 | Driver | 10 | 80 | 800 | 9,600 | 9,600 | 9,600 | 9,600 | 9,600 |
| 11 | Guard Man | 10 | 70 | 700 | 8,400 | 8,400 | 8,400 | 8,400 | 8,400 |
| | **စုစုပေါင်း** | 1,500 | | 125,870 | 1,510,440 | 1,510,440 | 1,510,440 | 1,510,440 | 1,510,440 |

ပြည်ပ ပညာရှင် လိုအပ်ချက်

| စဉ် | ဂန်ထမ်းအမျိုးအစား | ဦးရေ | လစာနှုန်း | တစ်နှစ် | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
|---|---|---|---|---|---|---|---|---|---|
| | | | US$ | US$ (000) | ကျပ် (000) | ကျပ် (000) | ကျပ် (000) | ကျပ် (000) | ကျပ် (000) |
| 1 | Production Technician | 5 | 500 | 30 | 24,000 | 24,000 | 24,000 | 24,000 | 24,000 |
| 2 | Engineer | 5 | 500 | 30 | 24,000 | 24,000 | 24,000 | 24,000 | 24,000 |
| 3 | Quality Control Supervisor | 5 | 500 | 30 | 24,000 | 24,000 | 24,000 | 24,000 | 24,000 |
| | **စုစုပေါင်း** | 15 | | 90 | **72,000** | **72,000** | **72,000** | **72,000** | **72,000** |

| | | | | | |
|---|---|---|---|---|---|
| **စုစုပေါင်း လစာစရိတ် (တစ်နှစ်)** | **1,582,440** | **1,582,440** | **1,582,440** | **1,582,440** | **1,582,440** |

နိုင်ငံသားဦးရေ 1500 အတွက် အလုပ်နေရာသစ်များ ပေါ်ပေါက်လာမည်ဖြစ်ပါသည်။

ပြည်တွင်း ပညာရှင်များ ကျွမ်းကျင်လာပါက နိုင်ငံခြားသားပညာရှင်များနေရာတွင်နိုင်ငံခြားပညာရှင်များကို ပေးသော လစာနှုန်းထားအတိုင်း အစားထိုးရန် ရည်ရွယ်ပါသည်။

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၅)

## နှစ်အလိုက် ဝင်ငွေရရှိမှုနှင့် အရှုံးအမြတ်စာရင်း

| Sr. | Particulars | Year 1 | | | Year 2 | | | Year 3 | | | Year 4 | | | Year 5 to Year 10 | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | US$ | Ks. (000) | Total Ks.(000) | US$ | Ks. (000) | Total Ks.(000) | US$ | Ks. (000) | Total Ks.(000) | US$ | Ks. (000) | Total Ks.(000) | US$ | Ks. (000) | Total Ks.(000) |
| 1 | Service Income | | | | | | | | | | | | | | | |
| | CMP Income | 3,019,500 | | 2,415,600 | 3,170,475 | - | 2,536,380 | 3,321,450 | - | 2,657,160 | 3,472,425 | - | 2,777,940 | 3,623,400 | - | 2,898,720 |
| | Reject Sales | | 69,000 | 69,000 | - | 72,450 | 72,450 | - | 75,900 | 75,900 | - | 79,350 | 79,350 | - | 82,800 | 82,800 |
| | Sub Total | 3,019,500 | 69,000 | 2,484,600 | 3,170,475 | 72,450 | 2,608,830 | 3,321,450 | 75,900 | 2,733,060 | 3,472,425 | 79,350 | 2,857,290 | 3,623,400 | 82,800 | 2,981,520 |
| 2 | Cost of Services | | | | - | - | - | - | - | - | - | - | - | - | - | - |
| | Salaries & Wages | 90,000 | 1,510,440 | 1,582,440 | 90,000 | 1,510,440 | 1,582,440 | 90,000 | 1,510,440 | 1,582,440 | 90,000 | 1,510,440 | 1,582,440 | 90,000 | 1,510,440 | 1,582,440 |
| | Increment | | | | | 75,522 | 75,522 | | 151,044 | 151,044 | | 226,566 | 226,566 | | 302,088 | 302,088 |
| | Electricity & Power | | 216,000 | 216,000 | | 216,000 | 216,000 | - | 216,000 | 216,000 | - | 216,000 | 216,000 | - | 216,000 | 216,000 |
| | HR & Warefare | | 90,000 | 90,000 | | 90,000 | 90,000 | - | 90,000 | 90,000 | - | 90,000 | 90,000 | - | 90,000 | 90,000 |
| | Repairs & Maint. | | 120,000 | 120,000 | | 120,000 | 120,000 | - | 120,000 | 120,000 | - | 120,000 | 120,000 | - | 120,000 | 120,000 |
| | Other Expenses | | 250,000 | 250,000 | | 250,000 | 250,000 | - | 250,000 | 250,000 | - | 250,000 | 250,000 | - | 250,000 | 250,000 |
| | Rental Fees | | 72,000 | 72,000 | | 72,000 | 72,000 | - | 72,000 | 72,000 | - | 72,000 | 72,000 | - | 72,000 | 72,000 |
| | Commercial Tax | | 3,450 | 3,450 | | 3,623 | 3,623 | - | 3,795 | 3,795 | - | 3,968 | 3,968 | - | 4,140 | 4,140 |
| | Depreciation | | 42,250 | 42,250 | | 42,250 | 42,250 | - | 42,250 | 42,250 | - | 42,250 | 42,250 | - | 42,250 | 42,250 |
| | Sub Total | 90,000 | 2,304,140 | 2,376,140 | 90,000 | 2,379,835 | 2,451,835 | 90,000 | 2,455,529 | 2,527,529 | 90,000 | 2,531,224 | 2,603,224 | 90,000 | 2,606,918 | 2,678,918 |
| 3 | Profit before Tax | 2,929,500 | (2,235,140) | 108,460 | 3,080,475 | (2,307,385) | 156,996 | 3,231,450 | (2,379,629) | 205,531 | 3,382,425 | (2,451,874) | 254,067 | 3,533,400 | (2,524,118) | 302,602 |
| 4 | Income Tax (25%) | | | | | | - | - | - | - | - | - | 63,517 | - | | 75,651 |
| 5 | Net Profit | 2,929,500 | (2,235,140) | 108,460 | 3,080,475 | (2,307,385) | 156,996 | 3,231,450 | (2,379,629) | 205,531 | 3,382,425 | (2,451,874) | 190,550 | 3,533,400 | (2,524,118) | 226,952 |

Exchange Rate 1 US$ = Kyats 800, Commercial Tax for Kyats Sales - 5% and Income Tax - 25%

SHEET II



## Detail of Repairs and Maintenance Expenses

Kyats in Thousand

| Sr. | Particular | Year 1 | Year 2 | Year 3 | Year 4 | Year 5 - 10 |
|---|---|---|---|---|---|---|
| 1 | Repairs & Maint. - Building | 20,000 | 20,000 | 20,000 | 20,000 | 20,000 |
| 2 | Repairs & Maint. - Machinery | 70,000 | 70,000 | 70,000 | 70,000 | 70,000 |
| 3 | Repairs & Maint. - Equipment | 10,000 | 10,000 | 10,000 | 10,000 | 10,000 |
| 4 | Maint. Landscaping & Garden | 10,000 | 10,000 | 10,000 | 10,000 | 10,000 |
| 5 | Repairs & Maint. - Sundry | 10,000 | 10,000 | 10,000 | 10,000 | 10,000 |
| | Total | 120,000 | 120,000 | 120,000 | 120,000 | 120,000 |

## Detail of Other Expenses

Kyats in Thousand

| Sr. | Particular | Year 1 | Year 2 | Year 3 | Year 4 | Year 5 - 10 |
|---|---|---|---|---|---|---|
| 1 | Factory Supplies | 10,000 | 10,000 | 10,000 | 10,000 | 10,000 |
| 2 | Staff Warefare | 50,000 | 50,000 | 50,000 | 50,000 | 50,000 |
| 3 | Medical Expenses | 6,000 | 6,000 | 6,000 | 6,000 | 6,000 |
| 4 | Uniform | 30,000 | 30,000 | 30,000 | 30,000 | 30,000 |
| 5 | Export & Import Expenses | 30,000 | 30,000 | 30,000 | 30,000 | 30,000 |
| 6 | Transport | 24,000 | 24,000 | 24,000 | 24,000 | 24,000 |
| 7 | Travelling Charges | 45,000 | 45,000 | 45,000 | 45,000 | 45,000 |
| 8 | Meal Allowance | 9,000 | 9,000 | 9,000 | 9,000 | 9,000 |
| 9 | Printing & Stationery | 2,400 | 2,400 | 2,400 | 2,400 | 2,400 |
| 10 | Sundry Expenses | 9,000 | 9,000 | 9,000 | 9,000 | 9,000 |
| 11 | Entertainment | 6,000 | 6,000 | 6,000 | 6,000 | 6,000 |
| 12 | Fuel & Petrol | 12,000 | 12,000 | 12,000 | 12,000 | 12,000 |
| 13 | Telephone & Internet | 3,600 | 3,600 | 3,600 | 3,600 | 3,600 |
| 13 | Tax & Rate | 6,000 | 6,000 | 6,000 | 6,000 | 6,000 |
| 14 | Donation & Gift | 7,000 | 7,000 | 7,000 | 7,000 | 7,000 |
| | Total | 250,000 | 250,000 | 250,000 | 250,000 | 250,000 |

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၅-က)

# Depreciation Schdule

Kyats in Thousand

| Particular | Cost | Depreciation | | | | | |
|---|---|---|---|---|---|---|---|
| | | Rate | Year 1 | Year 2 | Year 3 | Year 4 | Year 5-10 |
| Machinery and Equipment | 400,000 | 10% | 40,000 | 40,000 | 40,000 | 40,000 | 40,000 |
| Furniture and Office Equipment | 15,000 | 15% | 2,250 | 2,250 | 2,250 | 2,250 | 2,250 |
| | 415,000 | | 42,250 | 42,250 | 42,250 | 42,250 | 42,250 |
| | | | | | | | |

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၆)

# Yearly Investments / Capital Cost

Kyats in Thousand

| Sr. | Particulars | Equity | | Loan | | Total | | |
|---|---|---|---|---|---|---|---|---|
| | | US$ | Kyats | US$ | Kyats | US$ | Kyats | Eqv. Kyats |
| 1 | Investment (Capital) | | | | | | | |
| | In Cash | | 135000 | | | | 135000 | 135000 |
| | Machinery and Equipment | 500 | | | | 500 | | 400000 |
| | Furniture and Office Equipment | | 150 | | | | 15000 | 15000 |
| | | 500 | 135150 | 0 | 0 | 500 | 150000 | 550000 |
| | | | | | | | | |

Foreign Exchange Rate 1 US$ = Kyats 800

Total Investment = Ks. 550,000,000

နောက်ဆက်တွဲ (၇)

Myanmar Synergy Garment Co., Ltd.

## CASH FLOW STATEMENTS

Kyats in Thousand

| Sr. | Particulars | Year 0 | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | Cash Inflow | | | | | | | | | | | |
| | Capital Contribution | | | | | | | | | | | |
| | In Cash | 135000 | | | | | | | | | | |
| | Machine & Equipment | 400000 | | | | | | | | | | |
| | Furniture & Office Equipment | 15000 | | | | | | | | | | |
| | Profit after Tax | | 108460 | 156996 | 205531 | 190550 | 226952 | 226952 | 226952 | 226952 | 226952 | 226952 |
| | Depreciation | | 42250 | 42250 | 42250 | 42250 | 42250 | 42250 | 42250 | 42250 | 42250 | 42250 |
| | | 550000 | 150710 | 199246 | 247781 | 232800 | 269202 | 269202 | 269202 | 269202 | 269202 | 269202 |
| 2 | Cash Outflow | | | | | | | | | | | |
| | In Cash | | | | | | | | | | | |
| | Machine & Equipment | 400000 | | | | | | | | | | |
| | Furniture & Office Equipment | 15000 | | | | | | | | | | |
| | Net Cash Flow | 135000 | 150710 | 199246 | 247781 | 232800 | 269202 | 269202 | 269202 | 269202 | 269202 | 269202 |
| | Opening Balance | | 135000 | 285710 | 484956 | 732737 | 965536 | 1234738 | 1503939 | 1773141 | 2042342 | 2311544 |
| | Closing Balance | | 285710 | 484956 | 732737 | 965536 | 1234738 | 1503939 | 1773141 | 2042342 | 2311544 | 2580745 |

Sheet II

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၇)

# Pay Back Period

Kyats in Thousand

| Sr. | Particulars | Year 0 | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | **Cash Inflow** | | | | | | | | | | | |
| | Profit after Tax | | 108,460 | 156,996 | 205,531 | 190,550 | 226,952 | 226,952 | 226,952 | 226,952 | 226,952 | 226,952 |
| | Depreciation | | 42,250 | 42,250 | 42,250 | 42,250 | 42,250 | 42,250 | 42,250 | 42,250 | 42,250 | 42,250 |
| | | | 150,710 | 199,246 | 247,781 | 232,800 | 269,202 | 269,202 | 269,202 | 269,202 | 269,202 | 269,202 |
| 2 | **Cash Outflow** | | | | | | | | | | | |
| 1 | Investment | 550,000 | | | | | | | | | | |
| | Net Loss | | | | | | | | | | | |
| | Loan Repayment | | | | | | | | | | | |
| | **Net Cash Flow** | (550,000) | 150,710 | 199,246 | 247,781 | 232,800 | 269,202 | 269,202 | 269,202 | 269,202 | 269,202 | 269,202 |
| | **Opening Balance** | | (550,000) | (399,290) | (200,045) | 47,737 | 280,536 | 549,738 | 818,939 | 1,088,141 | 1,357,342 | 1,626,544 |
| | **Closing Balance** | | (399,290) | (200,045) | 47,737 | 280,536 | 549,738 | 818,939 | 1,088,141 | 1,357,342 | 1,626,544 | 1,895,745 |

Pay Back Period (2) years and (10) months

Myanmar Synergy Garment Co., Ltd.

နောက်ဆက်တွဲ (၈)

## Calculation of International Rate of Return (IRR)

| Sr | Year | Net Cash Flow | Discounted Cash Flow | | | |
|---|---|---|---|---|---|---|
| | | | DF 20% | DCF 20% | DF 25% | DCF 25% |
| 1 | 0 | (550,000) | 1.0000 | (550,000) | 1.0000 | (550,000) |
| 2 | 1 | 150,710 | 0.8333 | 125,592 | 0.8000 | 100,473 |
| 3 | 2 | 199,246 | 0.6944 | 138,365 | 0.6400 | 88,554 |
| 4 | 3 | 247,781 | 0.5787 | 143,392 | 0.5120 | 73,417 |
| 5 | 4 | 232,800 | 0.4823 | 112,268 | 0.4096 | 45,985 |
| 6 | 5 | 269,202 | 0.4019 | 108,186 | 0.3277 | 35,450 |
| 7 | 6 | 269,202 | 0.3349 | 90,155 | 0.2621 | 23,634 |
| 8 | 7 | 269,202 | 0.2791 | 75,129 | 0.2097 | 15,756 |
| 9 | 8 | 269,202 | 0.2326 | 62,608 | 0.1678 | 10,504 |
| 10 | 9 | 269,202 | 0.1938 | 52,173 | 0.1342 | 7,003 |
| 11 | 10 | 269,202 | 0.1615 | 43,478 | 0.1074 | 4,668 |
| | | | | 401,345 | | (144,557) |

**Internal Rate of Return =** **20 + 5(401872/545902)**

**23.68 %**

# Myanmar Synergy Garment Co., Ltd.

## Product Sample Design

T- shirt










Sport Shirt



# Myanmar Synergy Garment Co., Ltd.

## Product Sample Design

Shirt






Lady Vest





Myanmar Synergy Garment Co., Ltd.

# MEMORANDUM OF UNDERSTANDING

This Memorandum of Understanding (hereinafter referred to as "MOU") made and entered into this 1st September 2012 by and between **Company C Singapore Pte Ltd.**, 8 EU Tong Sen. Street, #19-87 Central, Singapore (059818) (hereinafter referred to as "Party A", which expression shall, unless the context otherwise requires, include its nominees, legal representatives and successors), a corporation organized and existing under the laws of the Singapore

and

**Myanmar Synergy Garment Co., Ltd.,** No. 18-19, Depeyin Wun Htauk U Myae Street, Hlaing Thar Yar Industrial Zone 2 (hereinafter referred as "Party B"), which expression shall, unless the context otherwise requires, include its nominees, legal representatives and successors), a corporation organized and existing under the laws of the Republic of the Union of Myanmar having its principal business place at Yangon.

**WITHNESSETH:**

WHEREAS, both parties hereto:

Both parties are legally established as the companies under their country laws and they are fully authorized to make and sign this MOU.

## 1. PURPOSE

The purpose of this MOU is:

(1) Party A shall make offer to Party B to provide yearly garment products accordance as par Appendix (1) by CMP basic.

(2) Party A shall yearly provide all material as per Appendix (2) to Party B for which is able to provide garment product as per Appendix (1).

(3) Party A shall pay to Party B for CMP providing fee which more than as par Appendix (3) or international CMP providing price.

(4) Party B accepts above Para (1) to (3); agree to provide garment products by CMP basic to Party A.

## 2. EFFECTIVENESS

This MOU shall come into effect as from the date on which the authorized representatives of both parties hereto have given their respective signature to this MOU.

**3. TERMINATION**

Upon the successful conclusion and effectuation of the Definitive Agreement which the parties hereto intend to achieve under this MOU, this MOU shall be terminated and replaced by the Definitive Agreement.

**4. ASSIGNMENT**

Neither this MOU nor any obligations hereunder shall be assignable directly or indirectly by either party without the prior written consent of the other party.

**5. AMENDMENT**

This MOU may be amended only by an instrument in writing, signed by the same authorized officers that have signed the initial MOU, their legal successors or legal representatives.

**6. GOVERNING LAW**

This MOU shall be interpreted in accordance with, and governed by, the laws of Republic of Union of Myanmar.

IN WITNESS WHEREOF, both parties hereto have caused this MOU to be duly executed in duplicate originals in English on the day and year written above by their duty authorized representations.

**PARTY A**

**Company C Singapore Pte Ltd.**

Kim Jong

**MR. Min Jong Kim**
**President & CEO**

**PARTY B**

**Myanmar Synergy Garment Co., Ltd.**

Min

**U Min Gaung Oo**
**Managing Director**

# MYANMAR SYNERGY GARMENT CO., LTD ' LOCATION



# Myanmar Synergy Garment Co., Ltd.





# မြေနှင့် အဆောက်အဦးငှားရမ်း သဘောတူစာချုပ် (မူကြမ်း)

ဤမြေနှင့် အဆောက်အဦးငှားရမ်းသဘောတူစာချုပ် (နောင်တွင် **အငှားစာချုပ်** ဟု ခေါ်တွင်စေရမည်။) ကို ၂၀၁၂ခုနှစ်၊ လ၊ ရက်နေ့တွင် အမှတ် ၆၀၊ ရန်ကုန် - အင်းစိန်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနေ ဦးအိုက်ရှန် (နိုင်ငံသားစိစစ်ရေးအမှတ် - ၉/မရမ (နိုင်) ၁၃၈၉၉၆)(နောင်တွင် **အငှားချထားသူ** ဟုခေါ်တွင်စေရမည်၊ ယင်းစကားရပ်တွင် ၎င်းတို့၏ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြု ထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) တို့က တစ်ဖက်နှင့်

အမှတ် ၁၈ - ၁၉၊ ဒီပဲရင်းဝန်ထောက်ဦးမြလမ်း၊ စက်မှုဇုန် (၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းတွင် မှတ်ပုံတင်ရုံး တည်ရှိသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသည့် ကုမ္ပဏီလီမိတက် တစ်ခုဖြစ်သည့် MYANMAR SYNERGY GARMENT CO., LTD. (နောင်တွင် **အငှားချထားခြင်းခံရသူ** ဟု ခေါ်တွင်စေရမည်။ ယင်းစကားရပ်တွင် ၎င်းဆက်ဆံသူများနှင့် ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) ကို ကိုယ်စားပြုသူအဖြစ် အုပ်ချုပ်မှုဒါရိုက်တာ ဦးမင်းဂေါင်ဦး မှ အခြားတစ်ဖက်တို့သည်

ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ (၂)၊ ဒီပဲရင်းဝန်ထောက်ဦးမြဲလမ်း၊ အမှတ် ၁၈ - ၁၉ လိပ်စာတွင်လျက် ၃.၆၁၉ဧကအကျယ်ရှိ စက်မှုမြေနှင့် ထိုမြေပေါ်ရှိအဆောက်အဦးများအားငှားရမ်းကြခြင်းကိစ္စအလို့ငှာ အောက်ပါတိုင်း မြေနှင့် အဆောက်အဦးငှားရမ်း သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

## ၁။ ရည်ရွယ်ချက်

ဤအငှားစာချုပ်အရ ငှားရမ်းမည့်မြေနှင့် အဆောက်အဦးများတွင် အငှားချ ထားခြင်းခံရသူသည် CMP စနစ်ဖြင့် လက်ခစား အထည်ချုပ်လုပ်ငန်း စက်ရုံတည်ထောင်လုပ်ကိုင်မည်ဖြစ်သည်။

## ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

အငှားချထားသူသည် ဤမြေနှင့် ထိုမြေပေါ်ရှိ အဆောက်အဦးများကို မိမိလက်ဝယ်တွင်ရှိပြီး၊ တရားဝင် ပိုင်ဆိုင်မှု ရှိကြောင်း အာမခံသည်။ ဤမြေနှင့်အဆောက်အဦးများကို အငှားချထားခံရသူအား အငှားချထားရန် သဘောတူသည်။ ဤအငှားချထားခံရသူသည် ဤအငှားစာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသော ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။ ဤစာချုပ်ကိုလက်မှတ်ရေးထိုးသူ နှစ်ဦးစလုံးသည် ဤသဘောတူစာချုပ်ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့်ပြည့်စုံသူများဖြစ်ကြောင်း အာမခံ သည်။

## ၃။ ဆောင်ရွက်ရမည့်ဥပဒေသ

ဤအငှားစာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ အငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## ၄။ ငှားရမ်းသည့်အချိန်ကာလ

ငှားရမ်းမည့်ကာလမှာ ကနဦးအနေဖြင့် (၁၀)နှစ်ဖြစ်ပြီး၊ ထိုသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့်ငှားရမ်းနိုင်ရေးအတွက် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်နှင့်အညီ ဆက်လက်ငှားရမ်းမည်ဖြစ်ပါသည်။

## ၅။ ငှားရမ်းခ

(က) ဤအငှားစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ စက်ပစ္စည်းများတပ်ဆင်သည့်ကာလအတွက် ငှားရမ်းခ သတ်မှတ်ခြင်းမပြုရပါ။ လုပ်ငန်းစတင်ဆောင်ရွက်သည့်နေ့မှစ၍ တစ်နှစ်လျှင် ကျပ် ၇၂၀၀၀၀၀၀/ - ( ကျပ် သိန်း ခုနစ်ရာ့နှစ်ဆယ်တိတိ) နှုန်းဖြင့် ငှားရမ်းခအဖြစ်သတ်မှတ်ပေးချေရပါမည်။

(ခ) နှစ်စဉ်ငှားရမ်းခကို ပေးချေရာတွင် တစ်နှစ်စာရင်းပိတ်သည်အထိ စောင့်ဆိုင်းခြင်းမပြုပဲ သုံးလလျှင် တစ်ကြိမ် ကျပ် ၁၈၀၀၀၀၀၀/-( ကျပ်သိန်းတစ်ရာ့ရှစ်ဆယ်တိတိ) နှုန်းဖြင့် ပထမလ၏ ရက် (၃၀) အတွင်းကြိုတင်ပေးဆောင်ရမည်ဖြစ်သည်။

(ဂ) ငှားရမ်းခကို အစိုးရအဖွဲ့ ညွှန်ကြားချက်အမှတ် ၃/၉၀ နှင့် အမှတ် ၅/၉၃ တို့ နှင့်အညီ (၅)နှစ်လျှင် တစ်ကြိမ်ငှားရမ်းခနှုန်းထားများကို ပြီးခဲ့သော (၅)နှစ်တာကာလ၏ ငှားရမ်းနှုန်းများထက် (၁၅)ရာခိုင်နှုန်းထက်မပိုစေဘဲ ညှိနှိုင်းပြင်ဆင် သတ်မှတ်ခွင့်ရှိသည်။

## ၆။ အငှားစာချုပ် အကျိုးသတ်ရောက်မှုနှင့် ကာလ

(က) ဤအငှားစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသဘောတူသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) ငှားရမ်းခြင်းကာလကို လုပ်ငန်းများပုံမှန်စတင်သည့်ရက် (သို့မဟုတ်) စာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့ အနက် စောသည့်ရက်မှ စတင်ရေတွက်ရမည်။

## ၇။ စာချုပ်သက်တမ်းတိုးခြင်း

စာချုပ်သက်တမ်းတိုးခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်းဆောင်ရွက်နိုင်သည် -

(က) အငှားချထားခံရသူသည် စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး (၃)လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြ၍ အငှားချထားသူသို့ တင်ပြရမည်။

(ခ) အငှားချထားသူက ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းရန်ကာလအတွက် ငှားရမ်းခနှုန်းထားနှင့် စာချုပ်စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ရယူပြီး ဆက်လက်ငှားရမ်းခွင့်ရှိသည်။

(ဂ) စာချုပ်ပါအငှားသက်တမ်းကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဖက်မှ ဆက်လက်ငှားရမ်းလိုခြင်းမရှိလျှင် အငှားချထားခြင်းခံရသူသည် မူလငှားရမ်းစဉ်အခြေအနေအတိုင်း အငှားချထားသူသို့ ပြန်လည်လွှဲပြောင်းပေးရမည်။

## ၈။ အငှားချထားခြင်းခံရသူ၏တာဝန်များ

အငှားချထားခြင်းခံရသူသည် အငှားချထားသူနှင့် ရှင်းလင်းစွာပြုလုပ်ထားသော ဆောင်ရွက်ပေးရန် တာဝန်များ မှာ အောက်ပါအတိုင်းဖြစ်သည်။

(က) ငှားရမ်းသည့်ကာလများအတွက် ငှားရမ်းခများကို သတ်မှတ်သဘောတူထားသော ရက်တွင် ပေးရမည့် အပြင်သက်ဆိုင်ရာ အာဏာပိုင်များသို့ ပေးဆောင်ရမည့် ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အခကြေးငွေများကိုလည်း အချိန်မှန်မှန်ပေးဆောင်ရမည်။

(ခ) ဤအငှားစာချုပ် ချုပ်ဆိုခြင်း၊ စာချုပ်စာတမ်းမှတ်ပုံတင်ခြင်း၊ ဤအငှားစာချုပ်ကိုတရားဝင်အောင် ပြုလုပ်ခြင်း၊ သက်တမ်းတိုးခြင်း၊ ပြင်ဆင်ခြင်းတို့အတွက် ကုန်ကျစရိတ်များးကို ပေးဆောင်ရမည်။

(ဂ) အငှားချထားသော မြေနေရာကို ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ခွဲစိတ်ရောင်းချခြင်း စသည်တို့ကို လုံးဝဆောင်ရွက်ခြင်း မပြုလုပ်ရ။

(ဃ) ငှားရမ်းသည့်ကာလများအတွင်း အငှားချထားသောမြေနှင့် အဆောက်အဦးများကို ကောင်းမွန်စွာ ထိန်းသိမ်းရမည်ဖြစ်ပြီး၊ ငှားရမ်းသည့်ကာလ ကုန်ဆုံးသောအခါတွင်ဖြစ်စေ၊ သို့မဟုတ် ထပ်မံတိုးချဲ့ ငှားရမ်းခြင်းကာလကုန်ဆုံးသောအခါတွင်ဖြစ်စေ ၎င်းမြေနှင့် အဆောက်အဦးများကို မူလ အခြေအနေ အတိုင်း ကောင်းမွန်သော အနေအထားမျိုးဖြင့် ပြန်လည်လွှဲပြောင်းပေးရမည်။

(င) အငှားချထားသောမြေနှင့် အဆောက်အဦးများတွင် လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရာ၌ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဝင်တည်ဆဲဥပဒေများနှင့်အညီ ကိုက်ညီမှုရှိအောင် ဆောင်ရွက်ရမည်။

(စ) စည်ပင်သာယာအခွန် အပါအဝင်ဖြစ်သော အခြားအလားတူ လုပ်ငန်းသဘောအရ ပေးဆောင်ရန်ရှိသော အခွန်အကောက်များကို ပေးဆောင်ရမည်။

(ဆ) အငှားချထားသောမြေပေါ်ရှိ အဆောက်အအုံများနှင့် လုပ်ငန်းအတွက် လိုအပ်သောအာမခံများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာ့အာမခံဥပဒေများနှင့်အညီထားရှိရမည်။

(ဇ) အငှားချထားခြင်းခံရသူသည် မိမိလုပ်ငန်းမှ စွန့်ပစ်ပစ္စည်းကြောင့် ပတ်ဝန်းကျင်ရှိမြေနေရာ၊ ရေနှင့်လေထုညစ်ညမ်းမှုများမှ ကာကွယ်ရေးအတွက် လိုအပ်သောအစီအမံများထားရှိရန်တာဝန်ယူရမည်။

(ဈ) ဤအငှား စာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင် အက်ဥပဒေအရ မှတ်ပုံတင်ရမည်။ အငှားစာချုပ်ကို မှတ်ပုံတင်ခြင်းဖြင့် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်နှင့် အခြားအခွန်အခကို အငှားချထားသူက ပေးဆောင်ရမည်။

## ၉။ အငှားချထားသူ၏တာဝန်များ

အငှားချထားသူသည် အငှားချထားခြင်းခံရသူအား ဆောင်ရွက်ပေးရန်မှာ အောက်ပါအတိုင်းဖြစ်သည်။

(က) အငှားချထားခြင်းခံရသူအနေနှင့် ငှားရမ်းခများကို ပေးဆောင်နေသည့် ငှားရမ်းကာလအတွင်း အငှားချထားသောမြေနှင့် အဆောက်အဦးများနှင့် အကျုံးဝင်သည့်အရာများကို ငြိမ်းချမ်းစွာ၊ အေးချမ်းစွာနှင့် အနှောက်အယှက်ကင်းစွာ အသုံးပြုဆောင်ရွက် ပိုင်ဆိုင်ခွင့်ရှိရမည်ဖြစ်ပြီး၊ ငှားရမ်းသည့် ကာလအတွင်း အငှားချထားသူ၏ သဘောဆန္ဒအရ သို့မဟုတ် တစ်ဦးဦး၏ ဝင်ရောက် တောင်းဆိုမှုအရ သို့မဟုတ် အငှားထားသူ၏ ယုံကြည်အပ်နှံသူတို့မှပါဝင် ပတ်သက်မှုများဖြင့် ဝင်ရောက်နှောက်ယှက်ခြင်း မရှိစေရ။

(ခ) အငှားချထားသူသည် အငှားချထားသောမြေနှင့် ပတ်သက်သည့် ပေးဆောင်ရန်ရှိသောမြေခွန်ကို ပေးဆောင်ရမည်။

(ဂ) အငှားချထားသူသည် အငှားသူထားခြင်းခံရသူအား အငှားချထားသည့် မြေနေရာပေါ်တွင် အဆောက်အဦးများ ထပ်မံတည်ဆောက်ခြင်း၊ တိုးချဲ့ခြင်း နှင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် လိုအပ်သော ပြုပြင် ပြောင်းလဲမှုများကို လုပ်ခွင့်ပြုရမည်။

## ၁၀။ မလွှဲအရှောင်နိုင်သည့်ဖြစ်ရပ်များ

မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များဖြစ်သည့် ရေကြီးခြင်း၊ မီးလောင်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်းနှင့် အလားတူထိန်းချုပ်၍ မရနိုင်သည့်ဖြစ်ရပ်များ၊ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ် ဆောင်ရွက်မှုဖြင့် တားဆီးမရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှစာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက အဆိုပါ မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ(၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါက စာချုပ်ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်စလုံးတွင် မည်သည့်တာဝန်မျှမရှိစေရ။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ ပေါ်ပေါက်သည့်ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နုတ်ရန်သဘောတူကြပါသည်။

## ၁၁။ စာချုပ်ရပ်စဲခြင်း

၁၁-၁ ဤအငှားစာချုပ်ကို အောက်ပါအခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲခြင်းပြုလုပ်နိုင်သည်။

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

